အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Golden Flagmast International Company Limited (ဂိုးဒင်း(န်)ဖလက်မက်(စ်) အင်တာနေရှင်နယ်(လ်)ကုမ္ပဏီလီမိတက်)မှ လျှပ်ကူးနည်း (Electrolysis) ဖြင့် ခနောက်စိမ်း သတ္တုရိုင်း အားသန့်စင်ပြီး တင်ပို့ရောင်းချသည့်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| စဥ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၈-၁၀-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး | | | |
| | (ပ ကြိမ်) | ၂၇-၁၀-၂၀၁၆ | | ၁၂၀ - ရက် ကြာမြင့်ရက် |
| | (ဒု ကြိမ်) | ၂၈-၁၁-၂၀၁၆ | | |
| | (တ ကြိမ်) | ၃-၁-၂၀၁၇ | ၂၄-၂-၂၀၁၇ | |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန | ၂၇-၁၀-၂၀၁၆ | ၁၁-၁၁ -၂၀၁၆ | |
| | (ဂ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန(သတ္တုရေးရာကဏ္ဍ) | ၂၇-၁၀-၂၀၁၆ | ၂၂-၁၁-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၃၉/၂၀၁၆)သို့ တင်ပြခြင်း | ၂၄-၁၀-၂၀၁၆ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်အကြောင်းကြားခြင်း | ၁-၁၁-၂၀၁၆ | - | |
| ၅ | **မြေအသုံးပြုခွင့်တင်ပြခြင်း** | | - | |
| ၆ | သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထား မှတ်ချက်အား ကုမ္ပဏီသို့ အကြောင်းကြားခြင်း | ၁၈-၁၁-၂၀၁၆ | ၃-၃-၂၀၁၇ | |
| ၇ | သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန(သတ္တုရေးရာကဏ္ဍ)၏ သဘောထား မှတ်ချက်အား ကုမ္ပဏီသို့ အကြောင်းကြားခြင်း | ၂-၁၂-၂၀၁၆ | ၃-၃-၂၀၁၇ | |
| ၈ | **ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်တင်ပြခြင်း** | ၁-၃-၂၀၁၇ | | |
| ၉ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံ ပေးပို့ခြင်း | | ၃-၃-၂၀၁၇ | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၁၃၆) ရက်** | | |

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၄
PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန် လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | အလံ အမှတ် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Golden Flagmast International Company Limited (ဂိုးဒင်း(န်) ဖလက်မက်(စ်) အင်တာနေရှင်နယ်(လ်) | လျှပ်ကူးနည်း (Electrolysis)ဖြင့် ခနောက်စိမ်း သတ္တုရိုင်းအား သန့်စင်ပြီး တင်ပို့ရောင်းချခြင်း လုပ်ငန်း | ၃၉/၂၀၁၆ (၂၄-၁၀-၂၀၁၆) | - လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။<br>- နှစ်စဉ်ကုန်ကြမ်းရရှိမှု အစီအစဉ် တင်ပြရန်။ | ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး | က<br>ခ |

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Golden Flagmast International Company Limited(ဂိုးဒင်း(န်)ဖလက်မက်(စ်)အင်တာနေရှင်နယ်(လ်)ကုမ္ပဏီလီမိတက်)မှ လျှပ်ကူးနည်း (Electrolysis)ဖြင့် ခနောက်စိမ်းသတ္တုရိုင်းအား သန့်စင်ပြီး တင်ပို့ရောင်းချသည့် လုပ်ငန်း **ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - **Golden Flagmast International Company Limited (ဂိုးဒင်း(န်)ဖလက်မက်(စ်)အင်တာနေရှင်နယ်(လ်)ကုမ္ပဏီ လီမိတက်)** |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးသိန်းထိုက်(အဘ-ဦးသိန်း) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - လျှပ်ကူးနည်း(Electrolysis)ဖြင့် ခနောက်စိမ်းသတ္တုရိုင်းအား သန့်စင်ပြီးတင်ပို့ရောင်းချသည့် လုပ်ငန်း |
| ၂။ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ် (၃၀၁၊ ၃၀၂၊ ၃၀၃၊ ၃၀၄၊ ၃၀၅၊ ၃၀၆၊ ၃၁၃၊ ၃၁၄၊ ၃၁၅၊ ၃၁၆၊ ၃၁၇၊ ၃၁၈)၊ ခရိုကရုတ်ကွင်း၊ ကွင်းအမှတ် (၃၈၆)၊ မော်လမြိုင်စက်မှုဇုန်၊ ညောင်ပင်ဆိပ် ကျေးရွာအုပ်စု၊ မော်လမြိုင်မြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ် |
| ၃။ | စုစုပေါင်းမြေအကျယ်အဝန်း | - ၂.၇၆ ဧက (၁၁,၁၆၉.၃၃ စတုရန်းကီလိုမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - (၁၆၈ ပေx ၁၃၅ ပေ) စက်ရုံ အဆောက်အဦ ၁ လုံး<br>- (၁၀ ပေx ၂၀ ပေ) ရုံးအဆောက်အဦ ၁ လုံး |
| | တည်ဆောက်ရေးကာလ | - ၆ လ |
| | မြေပိုင်ရှင် | - ဦးသိန်းထိုက် |
| ၄။ | ရင်းနှီးမြှုပ်နှံမှု သက်တမ်း | - ၃၀ နှစ်၊ ၁၀နှစ် (၂)ကြိမ် သက်တမ်းတိုး |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၃,၆၅၁.၂၃ သန်း (US$ ၂.၀၃ သန်း အပါအဝင်) |

| ထည့်ဝင်သည့် အမျိုးအစား | ကျပ် (သန်း) | |
|---|---|---|
| မြေတန်ဖိုး | ၁၅၁.၅၁ | |
| အဆောက်အဦးတန်ဖိုး | ၂၀၂.၄၀ | |
| တင်သွင်းပြီး စက်နှင့် စက်ပစ္စည်း (ပြည်တွင်းဝယ်) | ၁,၁၅၃.၅၂ | (US$ ၀.၉၆ သန်း) |
| တင်သွင်းမည် စက်နှင့် စက်ပစ္စည်း (ပြည်ပဝယ်) | ၈၃၇.၅၀ | (US$ ၀.၆၉ သန်း) |
| မော်တော်ယာဉ်တန်ဖိုး(ပြည်တွင်းဝယ်) | ၄၄၀.၆၄ | (US$ ၀.၃၇ သန်း) |
| စတိုပစ္စည်းတန်ဖိုး | ၀.၆၄ | |
| စမ်းသပ်ခန်းသုံးပစ္စည်း(ပြည်တွင်းဝယ်) | ၆.၃၆ | (US$ ၀.၀၁ သန်း) |
| စမ်းသပ်မည့်ကုန်ကြမ်း | ၈၃၆.၄၆ | |
| ရုံးလုပ်ငန်းသုံးပစ္စည်း | ၇.၂၀ | |
| လှည့်လည်သုံးစွဲမည့်ငွေကြေး | ၅.၀၀ | |
| **စုစုပေါင်း** | **၃,၆၅၁.၂၃** | (US$ ၂.၀၃ သန်း အပါအဝင်) |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - ၅၇ ဦး |
| | ပြည်တွင်း | - ၅၄ ဦး (အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၁၀,၀၀၀ )<br>(အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၅၀၀,၀၀၀ ) |
| | ပြည်ပ | - ၃ ဦး (ဝန်ထမ်းတစ်ဦး၏လစာ US$ ၁,၀၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်ပ ၁၀၀ % ရောင်းချခြင်း။ |
| ၈။ | ကုမ္ပဏီ၏ (ဆဋ္ဌမနှစ်) ရရှိမည့် | |
| | ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ် | - US$ ၃၁.၀၀ သန်း<br>- US$ ၃၀.၆၇ သန်း<br>- US$ ၀.၃၃ သန်း |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - US$ ၀.၁၁ သန်း<br>- ၅ နှစ်၊ ၃ လ<br>- ၁၈.၄၅ %<br>၁ US$ = ၁,၂၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။ |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၁,၂၀၀ kVA |
| ၁၁။ | CSR | - လူမှုဘဝသာယာဝပြောရေး တာဝန်ယူ (Corporate Social Responsibility)အတွက် အသားတင် အမြတ်ငွေ၏ ၂ % ကိုအသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက် | - မီးဘေး ကြိုတင်ကာကွယ်ရေးအတွက် စက်ရုံအတွင်းတွင် မီးသတ်ဆေးဗူးများ လုံလောက်စွာထားရှိ သွားမည် ဖြစ်ပါကြောင်း၊ စက်ရုံပတ်ဝန်းကျင်နှင့် စက်ရုံအတွင်း အလွယ်တကူ မီးလောင်စေနိုင်သည့် ပစ္စည်းများအမှိုက်များအား ရှင်းလင်းထားမည် ဖြစ်ပါကြောင်း၊ အသုံးပြုနေသည့် လျှပ်စစ်ပစ္စည်းများ၊ မီးကြိုးများ၊ မီးခလုတ်များ အန္တရာယ် ရှိ/မရှိကို (ပြင်/ထိန်း)အဖွဲ့များနှင့် နေ့စဉ် စစ်ဆေးသွားမည် ဖြစ်ပါကြောင်း၊ အရေးပေါ်လွတ်မြောက်ရေးဆိုင်ရာ လုပ်ငန်းများအတွက် တပ်ဆင်ရမည့်စနစ်များ၊တပ်ဆင်ရမည့် နေရာများ၊ အရေအတွက်များနှင့် စံချိန်စံညွှန်းများကို မီးသတ်ဦးစီးဌာနမှ ရယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ကုမ္ပဏီအမည် - Golden Flagmast International Company Limited
(ဂိုးဒင်း(န်)ဖလက်မက်(စ်) အင်တာနေရှင်နယ်(လ်) ကုမ္ပဏီလီမိတက်)

အဖွဲ့အစည်းပုံသဏ္ဌာန် - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - လျှပ်ကူးနည်း (Electrolysis)ဖြင့် ခနောက်စိမ်းသတ္တုရိုင်းအား သန့်စင်ပြီး တင်ပို့ရောင်းချသည့် လုပ်ငန်း

တည်နေရာ - မြေကွက်အမှတ် (၃၀၁၊ ၃၀၂၊ ၃၀၃၊ ၃၀၄၊ ၃၀၅၊ ၃၀၆၊ ၃၁၃၊ ၃၁၄၊ ၃၁၅၊ ၃၁၆၊ ၃၁၇၊ ၃၁၈)၊ ခရိုကရုတ်ကွင်း၊ ကွင်းအမှတ် (၃၈၆)၊ မော်လမြိုင်စက်မှုဇုန်၊ ညောင်ပင်ဆိပ် ကျေးရွာအုပ်စု၊ မော်လမြိုင်မြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ်

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၃,၆၅၁.၂၃ သန်း (US$ ၂.၀၃ သန်း အပါအဝင်)

ရင်းနှီးမြှုပ်နှံမှု သက်တမ်း - ၃၀ နှစ်၊ ၁၀နှစ် (၂)ကြိမ် သက်တမ်းတိုး

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ (၁ နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၂၀ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၄၁.၈၇ | |
| ၄ | ဝင်ငွေခွန် | ၅၅၁.၃၈ | ၆၆၁.၈၀ |
| ၅ | လောင်စာဆီ | | ၁၂၅.၀၀ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၁,၅၀၂.၆၂ |
| ၇ | CSR (၂%) | | ၃၉.၇၁ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၅၄ ဦး အလုပ်အကိုင် ရရှိမည်ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၅၉၆.၂၅ | ၂,၃၃၀.၃၃ |
| | | ၁ : ၄ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက- ၅(သ)/၀၁၂/၂၀၁၇([illegible])

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Golden Flagmast International Company Limited (ဂိုးဒင်း(န်)ဖလက်မက်(စ်) အင်တာနေရှင်နယ်(လ်) ကုမ္ပဏီလီမိတက်)မှ လျှပ်ကူးနည်း(Electrolysis)ဖြင့် ခနောက်စိမ်း သတ္တုရိုင်းအားသန့်စင်ပြီး တင်ပို့ရောင်းချသည့်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Golden Flagmast International Company Limited (ဂိုးဒင်း(န်)ဖလက်မက်(စ်) အင်တာ နေရှင်နယ်(လ်)ကုမ္ပဏီလီမိတက်)မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ်ကျေးရွာအုပ်စု၊ မော်လမြိုင်စက်မှုဇုန်၊ ကွင်းအမှတ်(၃၈၆)၊ ခရုံကရုတ်ကွင်း၊ မြေကွက်အမှတ်(၃၀၁၊ ၃၀၂၊ ၃၀၃၊ ၃၀၄၊ ၃၀၅၊ ၃၀၆၊ ၃၁၃၊ ၃၁၄၊ ၃၁၅၊ ၃၁၆၊ ၃၁၇၊ ၃၁၈) ရှိမြေ စုစုပေါင်း၂.၇၆၉ဧက(၁၁,၁၆၉.၃၃၃စတုရန်းမီတာ)တွင် လျှပ်ကူးနည်း(Electrolysis)ဖြင့် ခနောက်စိမ်း သတ္တုရိုင်းအား သန့်စင်ပြီး တင်ပို့ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ Golden Flagmast International Company Limited (ဂိုးဒင်း(န်)ဖလက်မက်(စ်)အင်တာနေရှင်နယ်(လ်)ကုမ္ပဏီလီမိတက်)၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်မိတ္တူ၊ ဒါရိုက်တာစာရင်း၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း၊ နိုင်ငံသားစိစစ်ရေး ကတ်မိတ္တူများ တင်ပြထားပါသည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မူလမြေပိုင်ရှင် ဦးညီညီထွေးမှ ဦးသိန်းထိုက်သို့ မြေကွက်များ ရောင်းချထားသည့် အရောင်းအဝယ်စာချုပ်နှင့်အတူ မော်လမြိုင် စက်မှုဇုန် စီမံခန့်ခွဲရေးကော်မတီမှ မြေကွက် အမှတ် (၃၀၁-၃၀၆၊ ၃၁၃-၃၁၈)များကို ဦးသိန်းထိုက်မှ ပိုင်ဆိုင်သည်မှာ မှန်ကန်ကြောင်း အထောက်အထား ပူးတွဲ တင်ပြထားပါသည်။

၃။ ရင်းနှီးမြှုပ်နှံမည့် သက်တမ်းကာလမှာ ကနဦး ၃၀ နှစ်နှင့် ၁၀ နှစ် ၂ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည်ဖြစ်ပြီး စက်ရုံအဆောက်အဦ ပြင်ဆင်မည့်ကာလမှာ ၆လ ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထား ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ US$ ၂.၀၃ သန်း အပါအဝင် ကျပ် ၃,၆၅၀.၂၃ သန်း ဖြစ်ပြီး၊ ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည် -

| | | (ကျပ်သန်းပေါင်း) |
|---|---|---|
| (က) | မြေတန်ဖိုး | ၁၅၁.၅၁ |
| (ခ) | အဆောက်အဦးတန်ဖိုး | ၂၁၂.၄၀ |
| (ဂ) | တင်သွင်းပြီး စက်နှင့် စက်ပစ္စည်း (ပြည်တွင်းဝယ်) | ၁,၁၅၃.၅၂ (US$ ၀.၉၆ သန်း) |
| (ဃ) | တင်သွင်းမည့်စက်နှင့် စက်ပစ္စည်း (ပြည်ပဝယ်) | ၈၃၇.၅၀ (US$ ၀.၆၉ သန်း) |
| (င) | မော်တော်ယာဥ်တန်ဖိုး (ပြည်တွင်းဝယ်) | ၄၄၀.၆၄ (US$ ၀.၃၇ သန်း) |
| (စ) | စတိုပစ္စည်းတန်ဖိုး | ၀.၆၄ |
| (ဆ) | စမ်းသပ်ခန်းသုံးပစ္စည်း (ပြည်တွင်းဝယ်) | ၆.၃၆ (US$ ၀.၀၁ သန်း) |
| (ဇ) | စမ်းသပ်မည့်ကုန်ကြမ်း | ၈၃၆.၄၆ |
| (ဈ) | ရုံးလုပ်ငန်းသုံးပစ္စည်း | ၇.၂၀ |
| (ည) | လှည့်လည်သုံးစွဲမည့်ငွေကြေး | ၅.၀၀ |
| | **စုစုပေါင်း** | **၃,၆၅၁.၂၃**(US$ ၂.၀၃ သန်းအပါအဝင်) |

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်းဦးရေ ၅၄ ဦး နှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ ၃ ဦး စုစုပေါင်း **၅၇** ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ လျှပ်ကူးနည်း (Electrolysis)ဖြင့် ခနောက်စိမ်း သတ္တုရိုင်းအား သန့်စင်ပြီး ပြည်ပသို့ ၁၀၀ % တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ ကုမ္ပဏီမှ ပုံမှန်နှစ် ၆ နှစ်မြောက် ထုတ်လုပ်မှု နှင့် ရောင်းချမည့် ဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | **Ton** | **Ton /US$** |
|---|---|---|
| Recovered Antimony (97.5% of Raw Material ) | ၅,၀၀၀ | ၆,၂၀၀ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် ၆ နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | **US$(သန်း)** |
|---|---|---|
| (က) | ဝင်ငွေ | ၃၁.၀၀ သန်း |
| (ခ) | အသုံးစရိတ် | ၃၀.၆၇ သန်း |
| (ဂ) | အသားတင်အမြတ် | ၀.၃၃ သန်း |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် ၆နှစ်မြောက်တွင်ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၀.၁၁ သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် ၃ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၁၈.၄၅ % ဖြစ်ပါ သည်။ အမေရိကန် တစ်ဒေါ်လာလျှင် ကျပ် ၁,၂၀၀ နှုန်းဖြင့် တွက်ချက်ထားပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည် -

(က) **မွန်ပြည်နယ်အစိုးရအဖွဲ့ရုံးမှ** ညွှန်ကြားရေးမှူး၊ ပြည်နယ်စီမံကိန်းရေးဆွဲရေးဦးစီးဌာန ခေါင်းဆောင်သောအဖွဲ့ဖြင့် ကွင်းဆင်းစိစစ်စေခဲ့ရာ ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကိုထိခိုက်ခြင်းမရှိကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း၊ ဖော်ပြပါနေရာအား လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိကြောင်းနှင့် လုပ်ငန်းဆောင်ရွက်မည့် မြေနေရာမှာ သင့်လျော်ကြောင်း အစီရင်ခံစာ တင်ပြလာပါသဖြင့် (၁၆-၂-၂၀၁၇) ရက်နေ့တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်အစိုးရအဖွဲ့အစည်း အမှတ်စဉ်(၆/၂၀၁၇)၊ ဆုံးဖြတ်ချက် အပိုဒ်(၃၇)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန**မှ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားခဲ့ပါသည် -

(၁) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ အကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု **(Corporate Social Responsibility - CSR)**အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင် အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ပူးတွဲတင်ပြခဲ့သည့် ရေးဆွဲထားရှိပြီး ဖြစ်သော ကျန်းမာရေးနှင့် လူမှုပတ်ဝန်းကျင် ထိခိုက်မှု

ဆန်းစစ်ခြင်း(မူကြမ်း) (Draft Environmental Social And Health Impact Assessment- ESHIA) ကို ပြည့်စုံစွာဖြည့်စွက် ဆောင်ရွက်ပြီး ကျန်းမာရေးနှင့် လူမှုပတ်ဝန်းကျင်ထိခိုက်မှုဆန်း စစ်ခြင်း (Environmental Social And Health Impact Assessment- ESHIA) အစီရင်ခံစာအား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင် ခံစာရေးဆွဲ တင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမဖြစ်စေရေး(သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း /စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရမည်ဖြစ်ကြောင်းသဘောထားမှတ်ချက်ပြန်ကြားထားပါသည်။**ကုမ္ပဏီမှကျန်းမာရေးနှင့်လူမှု ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Social And Health Impact Assessment- ESHIA)နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)အစီရင်ခံစာအား သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဝန်ကြီးဌာနသို့ပေးပို့ထားပြီးဖြစ်ပါသည်။**

**နောက်ဆက်တွဲ (ခ)**

(ဂ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီး ဌာန (သတ္တုရေးရာကဏ္ဍ)**မှ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားခဲ့ပါသည်-

(၁) စက်ရုံတည်ဆောက်မည့်ဧရိယာတွင် သတ္တုရိုင်းစုပုံမည့်နေရာ၊ သတ္တုရိုင်းပုံမှထွက်ရှိလာမည့် သတ္တုပြင်းရည်သိုလှောင်ကန်၊ သတ္တုသန့်စင်ထုတ်လုပ်မည့် စက်ရုံနေရာတို့ကို ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု မရှိစေရေးအတွက် စနစ်တကျ ရွေးချယ်သတ်မှတ်ရန်။

(၂) ကုမ္ပဏီသည် စက်ရုံအတွက်လိုအပ်သည့် ခနောက်စိမ်း သတ္တုရိုင်းရရှိနိုင်ရေး အတွက်သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနနှင့်

ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရန် လုပ်ငန်းသဘောတူ စာချုပ်ချုပ်ဆိုထားရှိသည့် သတ္တုလုပ်ကွက်ရှိရန် လိုအပ်ပါသဖြင့် ကုမ္ပဏီအနေဖြင့် ခနောက်စိမ်း ထုတ်လုပ်ရန် လုပ်ကွက်မရှိပါက သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနနှင့် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် လုပ်ငန်းသဘောတူ စာချုပ်ချုပ်ဆိုထားသော ကုမ္ပဏီများနှင့် ဆက်သွယ်ဆောင်ရွက်သွားရန်။

(၃) လျှပ်ကူးနည်း(Electrolysis)နည်းစဥ်တွင် သုံးစွဲမည့်ဓာတုပစ္စည်း (Chemical Reagent)များသည် နိုင်ငံတော်မှကန့်သတ်ထားသည့် ဓာတုပစ္စည်းများတွင် ပါဝင်မှု မရှိစေရန်။

(၄) သန့်စင်ပြီးခနောက်စိမ်းများ တင်ပို့ရောင်းချရာတွင် သယံဇာတနှင့်သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဥပဒေ၊ နည်းဥပဒေ လုပ်ထုံးလုပ်နည်း များအား လိုက်နာဆောင်ရွက်ရန်နှင့် သတ်မှတ်သည့် အခွန်ဝေစုအချိုးများပေးသွင်းရန်။

(၅) ကုမ္ပဏီမှ တင်ပြမှုသည် သတ္တုလုပ်ကွက်မှသတ္တုတူးဖော်ခြင်းမဟုတ်ဘဲ စက်ရုံတည်ဆောက်ရန်ဖြစ်သည့်အတွက် သက်ဆိုင်ရာပြည်နယ်ရှိ စက်မှုကြီးကြပ်ရေးအဖွဲ့သို့တင်ပြ၍ ယင်းအဖွဲ့၏ စည်းမျဥ်းစည်းကမ်း ဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်ရန်သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။ **ကုမ္ပဏီမှ သဘောထား မှတ်ချက်နှင့် အညီ ဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် သန့်စင်ပြီး ခနောက်စိမ်းများတင်ပို့ရောင်းချရာတွင် သတ္တုခွန် ၃% နှုန်းနှင့် ပို့ကုန်ခွန် ၂% ကိုပေးဆောင်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။ နောက်ဆက်တွဲ(ဂ)**

၁၀။ ငွေကြေးအထောက်အထားအဖြစ် Golden Flagmast International Company Limited (ဂိုးဒင်း(န်)ဖလက်မက်(စ်)အင်တာနေရှင်နယ်(လ်)ကုမ္ပဏီလီမိတက်)သည် ဧရာဝတီဘဏ်၌ ၄-၁၀-၂၀၁၆ နေ့တွင် ကျပ် ၅၀၀,၀၁၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ **မီးဘေးကြိုတင်ကာကွယ်ရေးအစီအစဥ်** မီးဘေးကြိုတင်ကာကွယ်ရေးအတွက် စက်ရုံအတွင်းတွင် မီးသတ်ဆေးဗူးများ လုံလောက်စွာ ထားရှိ သွားမည်ဖြစ်ပါကြောင်း၊ စက်ရုံပတ်ဝန်းကျင်နှင့် စက်ရုံအတွင်း အလွယ်တကူမီးလောင်စေနိုင်သည့် ပစ္စည်းများအမှိုက်များအား ရှင်းလင်းထားမည် ဖြစ်ပါကြောင်း၊ အသုံးပြုနေသည့် လျှပ်စစ်ပစ္စည်းများ၊ မီးကြိုးများ၊ မီးခလုတ်များ အန္တရာယ် ရှိ/မရှိကို (ပြင်/ထိန်း)အဖွဲ့များနှင့် နေ့စဥ် စစ်ဆေးသွားမည်ဖြစ်ပါကြောင်း၊ အရေးပေါ် လွတ်မြောက်ရေးဆိုင်ရာ လုပ်ငန်းများအတွက် တပ်ဆင်ရမည့်စနစ်များ၊ တပ်ဆင်ရမည့်နေရာများ၊ အရေအတွက်များနှင့် စံချိန်စံညွှန်းများကို မီးသတ်ဦးစီးဌာနမှ ရယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ Golden Flagmast International Company Limited (ဂိုးဒင်း(န်)ဖလက်မက်(စ်) အင်တာ နေရှင်နယ်(လ်)ကုမ္ပဏီလီမိတက်)မှ နှစ်စဉ်အသားတင်အမြတ်ငွေ၏၂ %ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ထို့ပြင် ဝန်ထမ်း သက်သာချောင်ချိရေး အစီအစဉ် နှင့် ဝန်ထမ်းများအတွက် ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း တင်ပြ ထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပါအခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များ ကိုခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် အောက်တိုဘာ ၂၄ ရက်နေ့တွင် ကျင်းပပြုလုပ် သည့် (၃၉ /၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) လျှပ်ကူးနည်း (Electrolysis)ဖြင့် ခနောက်စိမ်းသတ္တုအားသန့်စင်ပြီး တင်ပို့ ရောင်းချ ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် နည်းပညာအား တရုတ်နိုင်ငံတွင် ဖွဲ့စည်း တည်ထောင် ထားသည့် BGRIMM အဖွဲ့အစည်းနှင့် နည်းပညာဆိုင်ရာ သဘောတူ စာချုပ်ချုပ်ဆို ပြီးနည်းပညာ၊ ကျွမ်းကျင်သော ကျွမ်းကျင်လုပ်သားများ ရယူဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ခ) ကုန်ကြမ်းအား နိုင်ငံတော်မှ ခနောက်စိမ်း တူးဖော် ထုတ်လုပ်ခွင့် ရရှိသည့် ကုမ္ပဏီ များထံမှ ခနောက်စိမ်းနှင့်ရောရာသတ္တုရိုင်းအား ဝယ်ယူမည်ဖြစ်ကြောင်းနှင့် သယံဇာတ နှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ ဓာတ်သတ္တု အကြီးစား ထုတ်လုပ်ရန် ခွင့်ပြုမိန့်ရရှိထားသည့် သပြေသတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် နှင့် ကုန်ကြမ်း ဝယ်ယူထားသည့် စာချုပ်အား တင်ပြထားပါသည်။

(ဂ) Golden Flagmast International Company Limited (ဂိုးဒင်း(န်)ဖလက်မက်(စ်) အင်တာ နေရှင်နယ်(လ်)ကုမ္ပဏီလီမိတက် မန်နေးဂျင်းဒါရိုက်တာ ဦးသိန်းထိုက်မှ ၂၀၁၄-၂၀၁၅ ခုနှစ် စည်းကြပ်နှစ်အတွက် မြေကွက်ဝယ်ယူခြင်းအပေါ် ဝင်ငွေခွန် ပေးသွင်းပြီးကြောင်းနှင့် Golden Flagmast International Company Limited (ဂိုးဒင်း(န်) ဖလက်မက်(စ်)အင်တာ နေရှင်နယ်(လ်)ကုမ္ပဏီလီမိတက် မှ ၂၀၁၆-၂၀၁၇ ခုနှစ် စည်းကြပ်နှစ်အတွက် ကြိုတင်ခွန်အဖြစ် ဝင်ငွေခွန်ပေးဆောင် ထားသည့် အထောက်အထား မိတ္တူများကို တင်ပြထားပါသည်။

(ဃ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အောက်ပါ လုပ်ငန်းများအား ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။

| စဉ် | ကုမ္ပဏီအမည် | ခွင့်ပြုမိန့်အမှတ်/ရက်စွဲ | လုပ်ငန်းအမျိုးအစား | တည်နေရာ | ရင်းနှီးမြှုပ်နှံမှုပုံစံ |
|---|---|---|---|---|---|
| ၁ | Baw Phyu Taung Company Limited | ၅၈၄/၂၀၁၃ (၉-၉-၂၀၁၃) | ခဲသတ္တုရိုင်း ကြိတ်ခွဲသန့်စင်ခြင်းလုပ်ငန်း | မြေကွက်အမှတ် -၁၅၊ ၁၆၊၁၇၊ ဘော်ဆိုင်းကျေးရွာ၊ ကလောမြို့နယ်၊ ရှမ်းပြည်နယ်တောင်ပိုင်း | ဖက်စပ် |
| ၂ | Myanmar Golden Bonanza Co., Ltd. | ၈၅၇/၂၀၁၄ (၅-၁၂-၂၀၁၄) | ခဲမဖြူ အဖြိုက်နက်နှင့် ရှီးလိုက် ရောရာသတ္တုများကို ခွဲခြားသန့်စင်ခြင်းလုပ်ငန်း | အကွက်အမှတ် ၂၄၉၊ ဦးပိုင်အမှတ် ၃၀၊ ရေနီကန် ရွာကွင်း၊ မထောခုကျေးရွာ အုပ်စုနှင့်အကွက်အမှတ် ၂၀၅၊ ဦးပိုင်အမှတ် ၃၊ ဇရပ်ဖြူအရှေ့ကွင်း ၊ ပန်ကန်ကျေးရွာအုပ်စု ၊ လွိုင်ကော်မြို့နယ် ၊ ကယားပြည်နယ် | ဖက်စပ် |

(င) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ Golden Flagmast International Company Limited (ဂိုးဒင်း(န်)ဖလက်မက်(စ်) အင်တာ နေရှင်နယ်(လ်)ကုမ္ပဏီလီမိတက်)မှ လျှပ်ကူးနည်း (Electrolysis)ဖြင့် ခနောက်စိမ်း သတ္တုရိုင်းအားသန့်စင်ပြီး တင်ပို့ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ - မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

(နောက်ဆက်တွဲ - က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
မွန်ပြည်နယ်

စာအမှတ် ၊ ၂၀၀ / ၄ - ၁/ အဖရ(မွန်)(ထ၅၁)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ၊ ဖေဖော်ဝါရီလ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **ခနောက်စိမ်းသတ္တုရိုင်းအား သန့်စင်ပြီး တင်ပို့ရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ပြုပါရန် လျှောက်ထားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၇-၁၀-၂၀၁၆) ရက်စွဲပါစာအမှတ်၊ မရက-၅(သ)/မ-၀၁၂/၂၀၁၆(၄၉၃)

မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ်ကျေးရွာအုပ်စု၊ မော်လမြိုင်စက်မှုဇုန်၊ ကွင်းအမှတ်(၃၈၆) ခရုံကရုတ်ကွင်း၊ မြေကွက်အမှတ် (၃၀၁၊ ၃၀၂၊ ၃၀၃၊ ၃၀၄၊ ၃၀၅၊ ၃၀၆၊ ၃၁၃၊ ၃၁၄၊ ၃၁၅၊ ၃၁၆၊ ၃၁၇၊ ၃၁၈) တွင် Golden Flagmast International Company Limited မှ လျှပ်ကူးနည်း (Electrolysis) ဖြင့် ခနောက်စိမ်းသတ္တုရိုင်းအား သန့်စင်ပြီး တင်ပို့ရောင်းချခြင်း လုပ်ငန်းအတွက် Golden Flagmast International Company Limited မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြခြင်းအပေါ် ကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ညွှန်ကြားရေးမှူး၊ ပြည်နယ်စီမံကိန်းရေးဆွဲရေးဦးစီးဌာန ခေါင်းဆောင်သောအဖွဲ့ဖြင့် ကွင်းဆင်းစိစစ်စေခဲ့ရာ ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိကြောင်း၊ မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း၊ ဖော်ပြပါနေရာအား လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိကြောင်းနှင့် လုပ်ငန်းဆောင်ရွက်နိုင်မည့်မြေနေရာမှာ သင့်လျော်ကြောင်း အစီရင်ခံတင်ပြလာပါသဖြင့် (၁၆-၂-၂၀၁၇)ရက်နေ့တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၆/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ်(၃၇)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည် ။

ဝန်ကြီးချုပ် (ကိုယ်စား)
(ကျော်မြင့်၊ အတွင်းရေးမှူး)

မိတ္တူကို
လှည့်လည်စာတွဲ / ရုံးလက်ခံ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁( ၂၄၅ / ၁၆ )
ရက် စွဲ၊၂ဝ၁၆ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့

အကြောင်းအရာ။ **Golden Flagmast International Company Limited မှ လျှပ်ကူးနည်း(Electrolysis)ဖြင့် ခနောက်စိမ်း သတ္တုရိုင်းအား သန့်စင်ပြီး တင်ပို့ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၁၁-၂ဝ၁၆ ရက်စွဲပါစာအမှတ်၊ ရက-၅(သ)/ မ-ဝ၁၂/ ၂ဝ၁၆(၄၉၄)

၁။ Golden Flagmast International Company Limited မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ်ကျေးရွာအုပ်စု၊ မော်လမြိုင်စက်မှုဇုန်၊ကွင်းအမှတ်(၃၈၆)၊ ခရုံကရုတ်ကွင်း၊ မြေကွက်အမှတ်(၃ဝ၁၊ ၃ဝ၂၊ ၃ဝ၃၊ ၃ဝ၄၊ ၃ဝ၅၊ ၃ဝ၆၊ ၃၁၃၊ ၃၁၄၊ ၃၁၅၊ ၃၁၆၊ ၃၁၇၊ ၃၁၈)ရှိ ၂.၆၇၈ဧက(၁၁၁၆၉.၃၃၃စတုရန်းမီတာ)တွင် လျှပ်ကူးနည်း(Electrolysis)ဖြင့် ခနောက်စိမ်းသတ္တုရိုင်းအား သန့်စင်ပြီး တင်ပို့ရောင်းချခြင်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၃ဝ)နှင့်(၁ဝ)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၆)လဖြစ်ပြီး၊ ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင်၂ဝဝဝတန်၊ (၁ဝ)နှစ်မှနှစ်(၃ဝ)အတွင်း ၆ဝဝဝတန် အထိတိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ မီးဘေးကာကွယ်ရေးအစီအစဉ်၊ ဝန်ထမ်းများသက်သာချောင်ချိရေးစီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ( ၂%)ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု ( Corporate

Social Responsibility– CSR )လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်ပတ်သက်၍ ပတ်ဝန်းကျင်လေထု၊ မြေထု၊ ရေထုညစ်ညမ်းမှုမဖြစ်ပေါ်စေရန်ရေပြန်စနစ်ဆောင်ရွက်သွားမည်ဖြစ်ပြီး ရေဆိုးများကို လည်းပြန်လည်သန့်စင်ခြင်းဆောင်ရွက်ပြီးမှသာလျှင် စွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ သယံဇာတ နှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များ အတိုင်း လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ကျန်းမာရေးနှင့်လူမှုပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(မူကြမ်း)( Draft Environmental Social And Health Impact Assessment - ESHIA )ကိုရေးဆွဲပြီးပူးတွဲဖော်ပြပါရှိပါသည်။

၃။ Golden Flagmast International Company Limited မှ လုပ်ငန်းများဆောင်ရွက်ရခြင်းကြောင့် သတ္တုရိုင်းကြိတ်ခွဲရာမှထွက်ရှိလာမည့် အမှုန်အမွှားများ၊ ကျောက်စကျောက်နများထွက်ရှိခြင်း၊ သံအောက်ဆိုဒ်၊ ကယ်ဆီယမ်အောက်ဆိုဒ်၊ ဟိုက်ဒရိုကာဗွန်နှင့် ကာဗွန်ပါဝင်သည့်ဒြပ်ပေါင်းများ၊ လုပ်ငန်းခွင်သုံး အခြားဓာတုဗေဒပစ္စည်းများ၊ စွန့်ပစ်ကျောက်မှုန့်အနယ်အနှစ်များကြောင့်လည်းကောင်း၊ အက်စစ်များအငွေ့ပျံမှုနှင့် အက်ဆစ်အနံ့များထွက်ရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှုများ ဖြစ်ပေါ်လာခြင်း၊ စက်ရုံအတွင်း အလုပ်သမားများနှင့် ပတ်ဝန်းကျင်ရှိအခြားသူများကို အသက်ရှူလမ်းကြောင်းနှင့် အဆုတ်ရောဂါများ၊ အရေပြားဆိုင်ရာရောဂါများ ဖြစ်ပွားစေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Golden Flagmast International Company Limited မှ လျှပ်ကူးနည်း (Electrolysis)ဖြင့် ခနောက်စိမ်းသတ္တုရိုင်းအား သန့်စင်ပြီး တင်ပို့ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့်လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများတာဝန်ခံ

ဆောင်ရွက်မှု(Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ (၂%)အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး( သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ပူးတွဲတင်ပြခဲ့သည့် ရေးဆွဲထားရှိပြီးဖြစ်သော ကျန်းမာရေးနှင့်လူမှုပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း(မူကြမ်း) ( Draft Environmental Social And Health Impact Assessment - ESHIA)ကို ပြည့်စုံစွာဖြည့်စွက်ဆောင်ရွက်ပြီး **ကျန်းမာရေးနှင့်လူမှုပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Social And Health Impact Assessment-ESHIA)**အစီရင်ခံစာအား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Management Plan–EMP)ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး ( ထုတ်လွှတ်မှု ) လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ခင်သီတာတင်
၁၁/၁၁/၂၀၁၄

(ခင်သီတာတင်)
ညွှန်ကြားရေးမှူး
ရန်ကုန်တိုင်းဒေသကြီး၊
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

မိတ္တူကို

- ပြည်ထောင်စုဝန်ကြီးရုံး
- သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
- ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
- ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ရန်ကုန်တိုင်းဒေသကြီး
- ရုံးလက်ခံ

နောက်ဆက်တွဲ (ဂ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

M4-1102
28.11.16

စာအမှတ် (သစ်တော)၃/၁၆(ဃ)( ၂၃၂၄ /၂၀၁၆)

ရက်စွဲ ၂၀၁၆ခုနှစ်၊ နိုဝင်ဘာလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၁၀-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၅(သ)/မ-၀၁၂/၂၀၁၆ (၄၉၅)

၁။ Golden Flagmast International Company Limited မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ်ကျေးရွာအုပ်စု၊မော်လမြိုင်စက်မှုဇုန်၊ ကွင်းအမှတ်(၃၈၆)၊ ခရုံကရုတ်ကွင်း၊ မြေကွက်အမှတ် ၃၀၁၊ ၃၀၂၊ ၃၀၃၊ ၃၀၄၊ ၃၀၅၊ ၃၀၆၊ ၃၀၇၊ ၃၀၈ တွင်လျှပ်ကူးနည်း (Electrolysis)ဖြင့် ခနောက်စိမ်းသတ္တုအား သန့်စင်ပြီး တင်ပို့ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် MIC သို့လျှောက်ထားလာပါသဖြင့် အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းအတွက် သဘာဝပတ်ဝန်းကျင်ထိခိုက်ခြင်းရှိ/မရှိနှင့် လုပ်ငန်းဆောင်ရွက်ရန် သင့်-မသင့် စသည့်အချက်များအပေါ် သဘောထားမှတ်ချက်အား ပြန်ကြားပေးရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန (သတ္တုရေးရာကဏ္ဍ) မှ အောက်ပါအတိုင်း သဘောထားပြန်ကြားအပ်ပါသည်-

(က) စက်ရုံတည်ဆောက်မည့်ဧရိယာတွင် သတ္တုရိုင်း စုပုံမည့်နေရာ၊ သတ္တုရိုင်းပုံမှ ထွက်ရှိလာမည့် သတ္တုပြင်းရည် သိုလှောင်ကန်၊ သတ္တုသန့်စင် ထုတ်လုပ်မည့် စက်ရုံနေရာတို့ကို ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု မရှိစေရေးအတွက် စနစ်တကျ ရွေးချယ်သတ်မှတ်ရန်၊

(ခ) ကုမ္ပဏီသည် စက်ရုံအတွက်လိုအပ်သည့် ခနောက်စိမ်းသတ္တုရိုင်း ရရှိနိုင်ရေးအတွက် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနနှင့် ထုတ်လုပ်မှုအပေါ်

ခွဲဝေခံစားသည့် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် လုပ်ငန်းသဘောတူစာချုပ် ချုပ်ဆိုထားရှိသည့် သတ္တုလုပ်ကွက်ရှိရန် လိုအပ်ပါသည်။ ကုမ္ပဏီအနေဖြင့် ခနောက်စိမ်း ထုတ်လုပ်ရန် လုပ်ကွက်မရှိပါက သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနနှင့် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် လုပ်ငန်းသဘောတူစာချုပ် ချုပ်ဆိုထားသော ကုမ္ပဏီများနှင့် ဆက်သွယ်ဆောင်ရွက်သွားရန်၊

(ဂ) လျှပ်ကူးနည်း (Electrolysis) နည်းစဉ်တွင် သုံးစွဲမည့် ဓာတုပစ္စည်း (Chemical Reagent) များသည် နိုင်ငံတော်မှကန့်သတ်ထားသည့် ဓာတုပစ္စည်းများတွင် ပါဝင်မှု မရှိစေရန်၊

(ဃ) သန့်စင်ပြီး ခနောက်စိမ်းများ တင်ပို့ရောင်းချရာတွင် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဥပဒေ၊ နည်းဥပဒေ လုပ်ထုံးလုပ်နည်းများအား လိုက်နာဆောင်ရွက်ရန်နှင့် သတ်မှတ်သည့် အခွန်ဝေစုအချိုးများ ပေးသွင်းရန်၊

(င) ကုမ္ပဏီမှ တင်ပြမှုသည် သတ္တုလုပ်ကွက်မှ သတ္တုတူးဖော်ခြင်း မဟုတ်ဘဲ စက်ရုံတည်ဆောက်ရန်ဖြစ်သည့်အတွက် သက်ဆိုင်ရာ ပြည်နယ်ရှိ စက်မှုကြီးကြပ်ရေးအဖွဲ့သို့တင်ပြ၍ ယင်းအဖွဲ့၏ စည်းမျဉ်းစည်းကမ်း ဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

အမြဲတမ်းအတွင်းဝန် (သတ္တုရေးရာ)
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ရုံးအမှတ် (၁၉)